ပုံစံ(မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၃၀၇/၉၉ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာ လ ၁၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးဆန်သူ

(ခ) အဘအမည် ဦးအိုက်မောင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/လရန(နိုင်)၀၉၅၀၀၁

(ဃ) နေရပ်လိပ်စာ အမှတ်-၆၇၊ ၁၆၆ လမ်း၊ တာမွေကြီး၊ (ခ) ရပ်ကွက် တာမွေမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ခိုင်ဖြိုးဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Kai Phyo Construction Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ``လုံးရယ်သီးမှာ`` စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်း (LONGAN FRUITS)

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ရေမအင်းတိရိစ္ဆာန်အစားအစာအသုံးချရေးနည်းပြအခြေစိုက်စခန်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၅၁.၂၀ သန်း (ကျပ်ငါးဆယ့်တစ်သန်း၊ နှစ်သိန်းတိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၈၅/၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၁ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၂ ရက်။
(၁၉၉၉ ခုနှစ်၊ နိုဝင်ဘာလ ၁၉ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) မှ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနပိုင် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ရေမအင်း တိရစ္ဆာန်အစားအစာအသုံးချရေး နည်းပြ အခြေစိုက်စခန်းရှိ မြေ (၂၈၉)ကေ (၁၁၆၉၅၄၂.၅၄ စတုရန်းမီတာ)ကို ငှါးရမ်း၍ လုံးရယ်သီးများ စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၃-၉-၉၉) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၅/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၁၁-၁၁-၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၀/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)အား လုံးရယ်သီးများ စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက်ခွင့်ပြုမိန့် အမှတ်၊ မနသ-၃၀၇/၉၉ ကို ထုတ်ပေးလိုက်သည်။

၂။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏

အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ကုန်ကြမ်းများ ကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့် အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၈။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှါးချထားသူ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာန နှင့် မြေအငှါးချထားခြင်းခံရသူ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) တို့ချုပ်ဆိုမည့် မြေငှါးရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၉။ မြေငှါးရမ်းကာလမှာ စာချုပ်ချုပ်ဆိုသည့် နေ့မှစ၍ (၂၅)နှစ်ဖြစ်ပြီး နောက်ထပ် (၅)နှစ် (၂)ကြိမ် သက်တမ်းတိုးမြှင့်ခွင့်အတွက် နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် တိုးမြှင့်သတ်မှတ်နိုင်သည်။

၁၀။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) သည် မြေငှါး စာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် မြေအသုံးချမှုပေးငွေ ကျပ် (၁.၀၀)သန်းကို မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနသို့ ပေးသွင်းရမည်။

၁၁။ နှစ်စဉ် မြေငှါးရမ်းခအဖြစ် တစ်ဧက တစ်နှစ်လျှင် ကျပ်(၂၀၀၀)နှုန်းဖြင့် ကျပ်(၀.၅၇၈)သန်း ဖြစ်ပြီး၊ ငှါးရမ်းခများကို (၆)လတစ်ကြိမ် ကြိုတင်ပေးသွင်းရမည် ဖြစ်ပါသည်။ ငှါးရမ်းခများကို ငါးနှစ်တစ်ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်းကာ ပြန်လည်သုံးသပ် တိုးမြှင့်ခွင့်ရှိရမည်။

၁၂။ စာချုပ်သက်တမ်း ကုန်ဆုံးသောအခါ အငှါးချထားသော မြေနှင့် မြေပေါ်ရှိ ဆောက်လုပ်ထားသော အဆောက်အဦများ၊ စိုက်ပျိုးထားသော နှစ်ရှည်ပင်များနှင့် အခြားဆက်နွယ်သော ပစ္စည်းအားလုံးကို ကောင်းမွန်သောအနေအထားဖြင့် မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနသို့ အဖိုးစားနားမဲ့ ပြန်လည် လွှဲပြောင်းပေးရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၄။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၅။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၆။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၄၂၂/၉၉ ( ဂ ဂ ဖ ဖ – က )
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ နိုဝင်ဘာလ ၁၉ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ နှစ်ရှည်ပင် လုပ်ငန်း။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာန။

၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

၂၈။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)။

အမိန့်အရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/ မ-၁၀၃၂/ ၉၉ (၆၃၀၆)။
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ နိုဝင်ဘာလ ၅ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် မှ လုံးရယ်သီးများ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) မှ လုံးရယ်သီးများ စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၃-၉-၉၉)နေ့ တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၅/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှလုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၃-၁၁-၉၉)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၃/၉၉) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ Buy-Back စနစ် သဘောတူစာချုပ် (မူကြမ်း)၊ မြေငှါးသဘောတူစာချုပ် (မူကြမ်း)နှင့် ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်များကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၂၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၅၁.၂၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် (၅၀.၉၄)သန်း {အမေရိကန်ဒေါ်လာ (၀.၁၆) သန်း အပါအဝင် } မော်တော်ယာဉ် တန်ဖိုးကျပ် (၀.၂၆)သန်း {အမေရိကန်ဒေါ်လာ (၀.၀၄)သန်း}ထည့်ဝင် ရင်းနှီးမည်ဖြစ်ပါသည်။ မော်တော်ယာဉ် ဝယ်ယူရန်အတွက် ချေးငွေကို ဟောင်ကောင်ရှိ H. Kingsway & Co., မှ Buy-Back စနစ်ဖြင့် ရယူမည်ဖြစ်ပြီး အကိုးနှုန်း(၉)ရာခိုင်နှုန်း (SIBOR အတက်အကျပေါ်မူ၍) ဖြင့် ဆိုင်းငံ့ကာလ (၆)နှစ် ရရှိမည်ဖြစ်ပြီး၊ ၂၀၀၅ ခုနှစ်တွင် တစ်ကြိမ်တည်း ပြန်လည် ပေးဆပ်မည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းအတွက် စက်ပစ္စည်း၊ အဆောက်အဦနှင့် ဖျူးပင်များမှာ ယခင် ခွင့်ပြုချက်ရပြီးသောလုပ်ငန်းမှ ပိုလျှံသည်များကို ဆက်လက်အသုံးပြုမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနပိုင် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ရေမအင်း တိရစ္ဆာန်အစားအစာအသုံးချရေး နည်းပြ အခြေစိုက်စခန်းရှိ မြေ (၂၈၉)ဧက (၁၁၆၉၅၄၂.၅၄ စတုရန်းမီတာ)ကို ငှါးရမ်း၍ လုံးရယ်သီးများ စိုက်ပျိုးမည်ဖြစ်ပါသည်။

၄။ မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနနှင့် မိုင်ဖြိုးဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုမည့် မြေငှါးသဘောတူစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) မြေငှါးရမ်းကာလမှာ(၂၅)နှစ်ဖြစ်ပြီး၊ နောက်ထပ်(၅)နှစ် (၂)ကြိမ်သက်တမ်းတိုးမြှင့်ခွင့် ရှိပါသည်။

(ခ) မြေငှါးစာချုပ် လက်မှတ်ရေးထိုးသည့်နေ့တွင် မြေအသုံးချမှု ပေးငွေကျပ် (၁,၀၀)သန်းကို မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနသို့ ပေးသွင်းရမည်ဖြစ်ပါသည်။

(ဂ) နှစ်စဉ် မြေငှါးရမ်းခအဖြစ် တစ်ဧက တစ်နှစ်လျှင် ကျပ်(၂၀၀၀)နှုန်းဖြင့် ကျပ်(၀.၅၇၈)သန်း ဖြစ်ပြီး၊ ငှါးရမ်းခများကို (၆)လတစ်ကြိမ် ကြိုတင်ပေးသွင်းရမည် ဖြစ်ပါသည်။

(ဃ) စာချုပ်သက်တမ်း ကုန်ဆုံးသောအခါ အငှါးချထားသော မြေနှင့် မြေပေါ်ရှိ ဆောက်လုပ်ထားသော အဆောက်အဦများ၊ စိုက်ပျိုးထားသောနှစ်ရှည်ပင်များနှင့် အခြားဆက်နွယ်သော ပစ္စည်းအားလုံးကို ကောင်းမွန်သောအနေအထားဖြင့် မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနသို့ အဖိုးစားနားမဲ့ ပြန်လည် လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် ငှါးရမ်းထားသော မြေ(၂၈၉)ဧကအနက် အသင့်စိုက်ပျိုးနိုင်သောမြေ ဖြစ်သည့် (၂၀၀)ဧက ပေါ်တွင် တစ်ဧကအပင် (၄၀)နှုန်း စိုက်ပျိုးမည် ဖြစ်ပါသည်။ အသီးသီးရန် အတွက်(၅)နှစ် စောင့်ဆိုင်းရမည် ဖြစ်ပါသည်။ အပင်သက်(၁၄)နှစ် နောက်ပိုင်းတွင် အသီး သီးနှုန်း ကျဆင်း သွားမည်ဖြစ်ပါသည်။ အပင်သက်(၉)နှစ်မှ (၁၄)နှစ်အတွင်း တစ်ပင်အသီး သီးနှုန်းမှာ (၉၆)မှ (၁၃၂)ကီလိုဂရမ်အထိ ဖြစ်ပါသည်။ ရောင်းဈေးနှုန်းများမှာ ပြည်တွင်းတွင် အသီးအစို (၆၀)ရာခိုင်နှုန်းကို တစ်ကီလိုဂရမ်လျှင် ကျပ်(၁၅၀)နှုန်းဖြင့်လည်းကောင်း၊ ပြည်ပသို့ အသီးအခြောက် (၄၀)ရာခိုင်နှုန်းကို တစ်ကီလိုဂရမ်လျှင် အမေရိကန်ဒေါ်လာ (၅.၉)ဒေါ်လာနှုန်းဖြင့်လည်းကောင်း ရောင်းချမည် ဖြစ်ပါသည်။

၆။ လုံးရယ်သီးများ အသီးသီးရန် စောင့်ဆိုင်းနေစဉ်ကာလအတွင်း ငွေပေါ်သီးပင်ဖြစ်သည့် ငှက်ပျော၊ ဖီးသီးပင်များနှင့် အရိပ်ပင် စိုက်ပျိုးရန်လိုအပ်သဖြင့် မြေကျောက်သရက်ပင်များ စိုက်ပျိုးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် အသီးအထွက်နှုန်း အမြင့်ဆုံးအချိန်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၈၅.၁၇ | ၁၅.၂၃ | ၁၀၀.၄၀ |
| (ခ) | အသုံးစရိတ် | ၃၇.၉၅ | ၀.၇၈ | ၃၈.၇၃ |
| (ဂ) | အသားတင်အမြတ် | ၅၇.၂၂ | ၄.၄၅ | ၆၁.၆၇ |

၈။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၉)နှစ်နှင့် (၆)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၆.၉၂)ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၂၄.၅၂ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၁၃ သန်း |
| (ခ) | မြေငှါးရမ်းခ | ကျပ် | ၀.၅၇၈ သန်း |

၁၀။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၆၀)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၁။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံရာ မြေယာပြုပြင်မှုများ ဆောင်ရွက်ပြီးပါက လုံးရယ်ပင်များ စိုက်ပျိုးရန် သင့်လျော်မှုရှိပါကြောင်း ပြန်ကြားလာပါသည်။

၁၂။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် ဓါးဘေးအန္တရာယ်များမဖြစ်ပေါ်စေရန် ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပြည်ပသို့တင်ပို့ရန်ဈေးကွက်ရှိပြီး ဖြစ်ကြောင်း၊ ချေးငွေ ရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာဖြစ်ကြောင်း၊ ကတိဝန်ခံချက်ပေးထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၄။ ဆုံးဖြတ်ရန်အချက်။

(က) ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်မှ လုံးရယ်သီးများ စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဗိုလ်မှူးချုပ် မောင်မောင် )
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

၁၅/၉၉

၇။ <u>ဒိုင်ပြိုး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် မှလုံး ဂယ်သီး များ စိုက်ပျိုး ရောင်းချ ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။</u>

ဒုတိယညွှန်ကြားရေးမှူးချုပ် ဒေါ်သိင်္ဂီတင်မှ (၃၁-၈-၉၉) ရက်စွဲပါစာအမှတ်၊ ရက-၆(ခ)/၁၀၄၂/၉၉(၄၇၁၉)ကိုရှင်းလင်း တင်ပြပါသည်။

ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်မှလုံး ဂယ်သီး ပင်များ အသီး သီး ရန် စောင့်ဆိုင်း နေစဉ်ကာလအတွက် စိုက်ပျိုး မည့် ငွေပေါ်သီး ပင်များ အနက်မြ ကျောက်သဂတ်ပင်၏အသီး ရရှိရန် စောင့်ဆိုင်း ရသည့်ကာလမှာလုံး ဂယ်ပင်နှင့် မကွာခြား လှသည်ကိုသတိပြုရန်လို ကြောင်း ပြောကြား ပါသည်။

ကော်မရှင်မှအဆိုပြုလုပ်ငန်း အား မူအား ဖြင့်သဘောတူသဖြင့်ကုန်သွယ်မှုမူဝါဒ ကောင်စီသို့ဆက်လက်တင်ပြရန်နှင့် မော်တော်ယာဉ်တင်သွင်း မှုနှင့် စပ်လျဉ်း၍တည်ဆောက်မှုကာလအတွင်း Land Cruiser (၁) စီး ကိုအခွန်အကောက် ကင်း လွတ်ခွင့်ဖြင့်လည်း ကောင်း၊ လုပ်ငန်း ဆောင်ရွက်မှုကာလတွင် Pick-up ( Double Cab ) (၁) စီး ကို၅၀ %အခွန်အကောက်သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်း ခွင့်ပြုရန်ဆုံး ဖြတ်ပါသည်။

<u>ဆုံးဖြတ်</u>

| | |
|---|---|
| | အကောက်၅၀ %သက်သာခွင့်ဖြင့်လည်း ကောင်း တင်သွင်း ခွင့်ပြုရန်။ |

| အမှတ်စဉ် | ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၁ | <u>နိုင်ငံပိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ လုံး ရယ်ယီး မျှား ဖိုက်ဖို့ ရောင်း ချခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။</u><br><u>ဆုံးဖြတ်ချက်</u><br>- အဆိုပြုလုပ်ငန်း အား မူအား ဖြင့်သဘောတူသဖြင့်ကုန်သွယ်မှု၊ မူဝါဒ ကောင်စီသို့ဆက်လက်တင်ပြရန်။<br>- မော်တော်ယာဉ်တင်သွင်း မှုနှင့်ပတ်သက်၍ တည်ဆောက် မှုကာလအတွင်း Land Cruiser (၁) စီး ကိုအခွန်အကောက် ကင်း လွတ်ခွင့်ဖြင့်လည်း ကောင်း၊ လုပ်ငန်း ဆောင်ရွက် မှုကာလအတွင်း Pick up (Double Cab)(၁) စီး ကိုအခွန် အကောက်၅၀ % သက်သာခွင့်ဖြင့်လည်း ကောင်း တင်သွင်း ခွင့်ပြုရန်။ | အတွင်းရေးမှူး မွေးမြူရေး နှင့်ရေလုပ် ငန်းဝန်ကြီး ဌာန။ |